**မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် Sein Myint Mo Tours And Travels Co., Ltd. မှ B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့ တင်ပြရန် ကြာချိန်**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၈-၃-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း**<br>- သယံဇာတ နှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၁၉-၃-၂၀၁၆ | ၂၄-၃-၂၀၁၆ | **(၅)ရက်** |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၂/၂၀၁၆)သို့ တင်ပြခြင်း | ၂၁-၃-၂၀၁၆ | | |
| ၄ | အဆိုပြုချက် လက်ခံကြောင်း ပြန်ကြားခြင်းနှင့် အဆိုပြုချက် စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၂/၂၀၁၆)ဆုံးဖြတ်ချက်နှင့်အညီ တင်ပြရန် အကြောင်းကြားခြင်း | ၂၉-၃-၂၀၁၆ | | |
| ၅ | ကုမ္ပဏီမှ သဘောထား မှတ်ချက်များနှင့်အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြလာခြင်း | ၂၉-၃-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံ(၈)စုံ ပေးပို့ခြင်း | ၂၉-၃-၂၀၁၆ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ် နှင့်နေ့ရက် | | ၁၂/၂၀၁၆ | |
| | **စုစုပေါင်းကြာမြင့်ရက်** | **( ၈၆ ) ရက်** | **၁၃-၆-၂၀၁၆** | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Sein Myint Mo Tours And Travels Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်။) |
| လုပ်ငန်းအမျိုးအစား | - | နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း |
| တည်နေရာ | - | ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနပိုင် ရှမ်းပြည်နယ်အရှေ့ပိုင်း၊ ကျိုင်းတုံခရိုင်၊ ကျိုင်းတုံမြို့နယ်၊ ကျိုင်းတုံ ဟိုတယ်ဟောင်း (ကျိုင်းတုံ ပါရာဒိုက်စ်)ရှိ မြေဧရိယာ ၁.၃၇၄ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၃,၁၀၀.၀၀ သန်း |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၅၀ နှစ် |
| အရင်းကြေကာလ | - | ၁၃ နှစ် ၉ လ |
| IRR | - | ၁၀.၀၁ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင် ကြေး | | ကျပ် ၁.၁၇ သန်း |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၆၉.၇၃ သန်း |
| ၄ | သွင်းကုန်အခွန် ကင်းလွတ်ခွင့် | - | |
| ၅ | ဝင်ငွေခွန် | ကျပ် ၁၂၅.၆၁ သန်း | ကျပ် ၃၈၂.၁၆ သန်း |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | ကျပ် ၅.၁၀ သန်း |
| ၇ | CSR (၂ %) | | ကျပ် ၁၇.၀၁ သန်း |
| ၈ | လျှပ်စစ်ဓါတ်အား သုံးစွဲခ | | ကျပ် ၁၁၁.၇၅ သန်း |
| ၉ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း(၁၂၀)ဦး |
| | | ပြည်တွင်း လုပ်သား(၁၂၀)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။ | |
| | | **ကျပ် ၁၂၇.၇၇ သန်း** | **ကျပ် ၅၈၆.၉၂ သန်း** |
| | Cost : Benefit | ၁ : ၅ | |

| အကြောင်းအရာ။ | Sein Myint Mo Tours And Travels Co., Ltd. မှ ဟိုတယ်နှင့် ခရီးသွားဧည့်ကြားမှုဦးစီးဌာနပိုင် ရှမ်းပြည်နယ်အရှေ့ပိုင်း၊ ကျိုင်းတုံခရိုင်၊ ကျိုင်းတုံမြို့နယ်၊ ကျိုင်းတုံဟိုတယ်ဟောင်း (ကျိုင်းတုံ ပါရာဒိုက်စ်)ရှိ မြေဧရိယာ ၁.၃၇၄ ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း နှင့် စပ်လျဉ်းသည့် အဓိကအချက်များ |
|---|---|

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Sein Myint Mo Tours And Travels Co., Ltd. |
| ၂။ | ကမကထပြုသူအမည် | - ဒေါက်တာဘုန်းမြင့် (မန်နေဂျင်းဒါရိုက်တာ) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ<br>(Private Company ဖြစ်ပါသည်။) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - B.O.Tစနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ဟိုတယ်နှင့်ခရီးသွားဧည့်ကြားမှုဦးစီးဌာနပိုင် ရှမ်းပြည်နယ်အရှေ့ပိုင်း၊ ကျိုင်းတုံခရိုင်၊ ကျိုင်းတုံမြို့နယ်၊ ကျိုင်းတုံဟိုတယ်ဟောင်း (ကျိုင်းတုံ ပါရာဒိုက်စ်)ရှိ မြေဧရိယာ ၁.၃၇၄ ဧက |
| ၆။ | နှစ်စဉ်မြေငှားရမ်းခ | - ကျပ် ၆၀ သန်း |
| ၇။ | မြေအသုံးချမှုပရီမီယံကြေး | - ကျပ် ၂၅ သန်း |
| ၈။ | စုစုပေါင်းမတည်ငွေရင်း<br><br>- ငွေပမာဏ<br>- စက်ပစ္စည်း တန်ဖိုး<br>- အဆောက်အအုံများ တန်ဖိုး<br>- ဟိုတယ်လုပ်ငန်းသုံးပစ္စည်း များ တန်ဖိုး<br>**စုစုပေါင်း** | **- ကျပ် ၃,၁၀၀.၀၀ သန်း**<br><br>- ကျပ် ၁၀၂.၈၀ သန်း<br>- ကျပ် ၈၂.၄၀ သန်း<br>- ကျပ် ၁,၆၃၃.၈၀ သန်း<br>- ကျပ် ၁,၂၇၁.၀၀ သန်း<br><br>**- ကျပ် ၃,၁၀၀.၀၀ သန်း** |
| ၉။ | တည်ဆောက်ရေးကာလ | - ၅ နှစ် |
| ၁၀။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - နှစ် ၅၀ (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၁၁။ | ပုံမှန်နှစ် ဝန်ဆောင်မှု (၇ နှစ်မြောက်) | - Deluxe ၆၆ ခန်း နှင့် Suite ၂၀ ခန်း၊ စုစုပေါင်း ၈၆ ခန်းရှိပြီး Suite ၂၀ ခန်းကို ၇ နှစ်မြောက်မှစ၍ ဝန်ဆောင်မှု ပေးနိုင်မည် ဖြစ်သည်။ |

| စဉ် | အမျိုးအစား | အခန်း အရေအတွက် | ဝန်ဆောင်ခ (တစ်နေ့/တစ်ခန်းလျှင်) | |
|---|---|---|---|---|
| | | | ကျပ် | US$ |
| (က) | Deluxe | ၆၆ | ၄၀,၀၀၀ | ၄၀ |
| (ခ) | Suite | ၂၀ | ၅၅,၀၀၀ | ၅၀ |
| (ဂ) | Occupancy Rate | | ၂၅% | ၇၅% |
| | **စုစုပေါင်း** | ၈၆ | | |

| | | |
|---|---|---|
| ၁၂။ | ဝင်ငွေ(၇)နှစ်မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။ | - US$ ၀.၅၉ သန်း<br>ကျပ် ၁၉၈.၉၆ သန်း |

| | | |
|---|---|---|
| ၁၃။ | အသားတင်အမြတ်<br>(၇)နှစ်မြောက် | - ကျပ် ၂၅၄.၂၄ သန်း |
| ၁၄။ | နိုင်ငံတော်မှရရှိမည့်<br>အကျိုးအမြတ် (၇)နှစ်မြောက်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၈၄.၇၅ သန်း<br>- ကျပ် ၄၅.၇၆ သန်း |
| ၁၅။ | ဝန်ထမ်းအင်အား (သတ္တမနှစ်)<br>ပြည်တွင်း<br><br>ပြည်ပ | - **၁၂၁ ဦး**<br>- ၁၂၁ ဦး (တစ်လလျှင် ပြည်တွင်းမှ ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံး လစာမှာ ကျပ် ၁၃၀,၀၀၀ နှင့် ဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ပါသည်။)<br>- မရှိပါ |
| ၁၆။ | အရင်းကြေကာလ | - ၁၃ နှစ် ၉ လ |
| ၁၇။ | အရင်းအနှီးပေါ်အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - ၁၀.၀၁ % |
| ၁၈။ | CSR | - ၂ % |
| ၁၉။ | နှစ်စဉ်လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၃၈၇,၆၀၀ Units |
| ၂၀။ | ငွေကြေးအထောက်အထား | - ကျပ်ငွေအထောက်အထားအဖြစ် ကုမ္ပဏီ၏ မန်နေဂျင်း ဒါရိုက်တာ ဦးဘုန်းမြင့်၏အမည်ဖြင့် CB Bank တွင် (၄-၃-၂၀၁၆) ရက်စွဲဖြင့် လက်ကျန်ငွေ ကျပ် ၆၀၀.၀၁ သန်း ရှိကြောင်း တင်ပြထားပါသည်။ |
| ၂၁။ | ကျိုင်းတုံဟိုတယ်ဟောင်း (ကျိုင်းတုံ ပါရာဒိုက်စ်) ငှားရမ်းခြင်း ဆိုင်ရာ နှစ်ဘက်သဘောတူ စာချုပ်ဟောင်းအား ပြင်ဆင်ဖြည့်စွက်သည့် စာချုပ်(မူကြမ်း) ပါ အဓိကအချက်များ | - ဟိုတယ်နှင့်ခရီးသွားလာရေး ဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှုဦးစီးဌာနနှင့် Sein Myint Mo Tours And Travels Co., Ltd. တို့ ချုပ်ဆိုထားသည့် ကျိုင်းတုံဟိုတယ်ဟောင်း (ကျိုင်းတုံ ပါရာဒိုက်စ်) ငှားရမ်းခြင်းဆိုင်ရာ နှစ်ဘက် သဘောတူ စာချုပ်ဟောင်းအား ပြင်ဆင် ဖြည့်စွက်သည့်စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(၁) ငှားရမ်းကာလမှာ မူလစာချုပ် လက်မှတ်ရေးထိုးသည့် ၂၀၁၄ ခုနှစ် ဧပြီလ (၁)ရက်နေ့မှစ၍ ကနဦး (၅၀)နှစ် (၁-၄-၂၀၁၄)မှ (၃၁-၃-၂၀၆၃)ထိ ဖြစ်ပြီး သက်တမ်းကုန်ဆုံးပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးမြှင့်ခွင့် ရရှိမည် ဖြစ်ပါသည်။ **အပိုဒ် - ၂**<br>(၂) နှစ်စဉ်ငှားရမ်းခမှာ တစ်နှစ်လျှင် ကျပ် ၆၀ သန်း (သို့မဟုတ်) စုစုပေါင်းဝင်ငွေ၏ ၅%၊ ယင်းနှစ်ရပ်အနက် များရာကို ပေးသွင်းရမည်။ **အပိုဒ် - ၃** |

| | | |
|---|---|---|
| | | (၃) နှစ်စဉ်ငှားရမ်းခကို (၄)နှစ် တစ်ကြိမ် နှစ်ဖက် ပြန်လည်ညှိနှိုင်း သုံးသပ် တိုးမြှင့် သတ်မှတ်ရမည်။ တိုးမြှင့်သတ်မှတ်မှု ပမာဏ သည် မူလငှားရမ်းခ၏ ၁၀% ထက် မပိုရ။ **အပိုဒ် - ၃**<br>(၄) မြေအသုံးချမှုပရီမီယံကြေးအား ကျပ် ၂၅ သန်း ပေးသွင်း ရမည်။ **အပိုဒ် - ၃**<br>(၅) နှစ်စဉ်ငှားရမ်းခ တစ်နှစ်လျှင် ကျပ် ၆၀ သန်းကို တစ်နှစ်လျှင် (၄)ကြိမ် ခွဲ၍ ပေးသွင်းရမည်။ **အပိုဒ် - ၄**<br>(၆) မြေအသုံးချမှု ပရီမီယံကြေး ကျပ် ၂၅ သန်းကို အငှားချထားသူ ထံသို့ အငှားချထားခြင်းခံရသူက တစ်လုံးတစ်ခဲတည်း အပြီး ပေးသွင်းရမည်။ **အပိုဒ် - ၄**<br>(၇) အငှားချထားခြင်းခံရသူသည် အငှားချထားသူ၏ ခွင့်ပြုချက် မရဘဲ မြေ၊ အဆောက်အဦနှင့် ယင်းမြေပေါ်ရှိ ပစ္စည်းများကို ထပ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ အမည် လွှဲပြောင်းခြင်း မပြုလုပ်ရ။ **မူလစာချုပ် အပိုဒ် - ၁၁(ည)**<br>(၈) စာချုပ်သက်တမ်းကုန်ဆုံးလျှင်(သို့မဟုတ်)ရပ်စဲလျှင် အခြား သဘောတူညှိနှိုင်းထားချက်များ မရှိပါက ရက်ပေါင်း ၃၀ အတွင်း မြေနှင့်အဆောက်အအုံများကို "အငှားချထားခြင်း ခံရသူ"က"အငှားချထားသူ"သို့ ကောင်းမွန်သော အနေအထား အတိုင်း အဖိုးစားနားမပါဘဲ ပြန်လည်အပ်နှံရမည်။<br>**မူလစာချုပ် အပိုဒ် - ၁၈** |
| ၂၂။ | အခြားတင်ပြချက် | - မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ဟိုတယ်နှင့်ခရီးသွားလာရေး ဝန်ကြီးဌာနပိုင် ဧရာဝတီတိုင်းဒေသကြီးနှင့် ရှမ်းပြည်နယ်တို့တွင် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ခွင့်ပြုမိန့် ထုတ်ပေးခဲ့သည့် လုပ်ငန်းများ မှာ အောက်ပါအတိုင်းဖြစ်ပါသည်- |

| စဉ် | ကုမ္ပဏီ အမည်/ ခွင့်ပြုမိန့် အမှတ် | လုပ်ငန်း အမျိုးအစား | တည်နေရာ |
|---|---|---|---|
| ၁ | Sky One Construction Co., Ltd. ၁၁၂၁/၂၀၁၆ ၁၉-၁-၂၀၁၆ | B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ဧရာဝတီတိုင်းဒေသကြီး၊ ရွှေသောင်ယံမြို့နယ်၊ ချောင်းသာကမ်းခြေ၊ မြေကွက်အမှတ်(ဈ-၂) |
| ၂ | Good To Go Travels & Tours Co., Ltd. ၁၁၂၂/၂၀၁၆ ၁၉-၁-၂၀၁၆ | B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ် (ရွှေသောင်ယံ မြို့နယ်ခွဲ)၊ ချောင်းသာ ကမ်းခြေ၊ မြေကွက် အမှတ် - ဈ(၃) |

| စဉ် | ကုမ္ပဏီ အမည်/ ခွင့်ပြုမိန့် အမှတ် | လုပ်ငန်း အမျိုးအစား | တည်နေရာ |
|---|---|---|---|
| ၃ | Lighting Specialist Co., Ltd. ၁၁၆၅/၂၀၁၆ ၂၆-၃-၂၀၁၆ | B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလော မြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ဦးပိုင် အမှတ်(၂၀)၊ အကွက် အမှတ် ၄၄၊ မြေအမှတ် ၈၄/A |

| | | |
|---|---|---|
| ၂၃။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းတွင် မူလအဆောက်အဦများအား ဖျက်သိမ်းပြီး Deluxe (၄၈)ခန်းပါ ၃ ထပ် အဆောက်အဦ (၁)လုံး၊ Deluxe (၁၈)ခန်းပါ ၃ ထပ် အဆောက်အဦ (၁)လုံး၊ Suite (၄)ခန်းပါ ၂ ထပ် အဆောက်အဦ (၅)လုံး နှင့် Swimming Pool (၁)ခု တို့အား အစားထိုးတည်ဆောက်သွားမည်ဖြစ်ပြီး စုစုပေါင်း ၈၆ ခန်းဖြင့် လုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ပါသည်။<br>- လုပ်ငန်းဆောင်ရွက်မည့်မြေမှာ မြေစာရင်းပုံစံ (၁၀၅) ရေးကူးခွင့်ရရှိထားသည့်အပြင် မြန်မာ့ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာနပိုင် အမည်ပေါက် ရရှိထားကြောင်း အထောက်အထား တင်ပြထားပါသည်။<br>- ကျိုင်းတုံပါရာဒိုက်(စ်)ဟိုတယ်အမည်ဖြင့် ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနမှ ထုတ်ပေးသော **ဟိုတယ်နှင့်တည်းခိုရိပ်သာလုပ်ငန်း လိုင်စင်** ရရှိထားပြီး ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၄/မ-၁၅၄၉/၂၀၁၆( ၇၀၀ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇွန် လ ၁၃ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Sein Myint Mo Tours And Travels Co., Ltd. မှ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနပိုင် ရှမ်းပြည်နယ်အရှေ့ပိုင်း၊ ကျိုင်းတုံခရိုင်၊ ကျိုင်းတုံမြို့နယ်၊ ကျိုင်းတုံဟိုတယ်ဟောင်း (ကျိုင်းတုံ ပါရာဒိုက်စ်)ရှိ မြေဧရိယာ ၁.၃၇၄ ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Sein Myint Mo Tours And Travels Co., Ltd. မှ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနပိုင် ရှမ်းပြည်နယ်အရှေ့ပိုင်း၊ ကျိုင်းတုံခရိုင်၊ ကျိုင်းတုံမြို့နယ်၊ ကျိုင်းတုံဟိုတယ်ဟောင်း (ကျိုင်းတုံ ပါရာဒိုက်စ်)ရှိ မြေဧရိယာ ၁.၃၇၄ ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါက်တာဘုန်းမြင့်မှ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား အဆိုပြုချက်စိစစ်ရေးအဖွဲ့၏(၁၂/၂၀၁၆)(၂၁-၃-၂၀၁၆)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန နှင့် Sein Myint Mo Tours And Travels Co., Ltd. တို့အကြား B.O.T စနစ်ဖြင့် ချုပ်ဆိုမည့် မြေ ၁.၃၇၄ ဧက နှင့် အဆောက်အဦအား ငှားရမ်းခြင်းအတွက် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားနှင့်အညီ မူလစာချုပ်အား ဖြည့်စွက်ပြင်ဆင်မည့် ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း)အား ပူးတွဲ တင်ပြထားပါသည်။

၃။ နှစ်စဉ်မြေငှားရမ်းခအား တစ်နှစ်လျှင် ကျပ် ၆၀ သန်းကို တစ်နှစ်လျှင် (၄)ကြိမ်ခွဲ၍ ပေးသွင်းမည် ဖြစ်ပါသည်။ မြေအသုံးချမှု ပရီမီယံကြေး ကျပ် ၂၅ သန်းကို တစ်လုံးတစ်ခဲတည်း အပြီး ပေးသွင်းရမည် ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းကာလမှာ ကနဦး နှစ်(၅၀)နှင့် နောက်ထပ် (၁၀) နှစ် (၂)ကြိမ် သက်တမ်းတိုးမြှင့်မည်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ (၅)နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၁၂၁)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ မှာ ကျပ် ၁၃၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ပါသည်။

၆။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၃၁၀၀.၀၀ သန်း ဖြစ်ပါသည်။ ဤအဆိုပြုလုပ်ငန်းတွင် အသုံးပြုမည့်လုပ်ငန်းသုံး ပစ္စည်းများနှင့် စက်ပစ္စည်း ကိရိယာများကို ပြည်တွင်းမှသာ ဝယ်ယူမည်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | မတည်ငွေရင်း ကျပ်(သန်း) |
|---|---|---|
| (က) | ငွေပမာဏ | ၁၁၂.၈၀ |
| (ခ) | စက်ပစ္စည်း တန်ဖိုး | ၈၂.၄၀ |
| (ဂ) | အဆောက်အအုံများ တန်ဖိုး | ၁,၆၃၃.၈၀ |
| (ဃ) | ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုး | ၁,၂၇၁.၀၀ |
| | စုစုပေါင်း - | ၃,၁၀၀.၀၀ |

၇။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် ၇ နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အခန်း အရေအတွက် | ဝန်ဆောင်ခ (တစ်နေ့/တစ်ခန်းလျှင်) | |
|---|---|---|---|---|
| | | | ကျပ် | US$ |
| (က) | Deluxe | ၆၆ | ၄၀,၀၀၀ | ၄၀ |
| (ခ) | Suite | ၂၀ | ၅၅,၀၀၀ | ၅၅ |
| (ဂ) | Occupancy Rate | | ၂၅% | ၇၅% |
| | စုစုပေါင်း - | ၈၈ | | |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၇ နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | US$ | ကျပ်(သန်း) | စုစုပေါင်းကျပ် (သန်း) |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၅၉၆,၈၉၀ | ၁၉၈.၉၆ | ၉၁၅.၂၃ |
| (ခ) | အသုံးစရိတ် | ၄၃,၉၂၃ | ၅၂၃.၅၃ | ၆၆၀.၉၉ |
| (ဂ) | အသားတင်အမြတ် | ၅၅၂,၉၆၈ | ၃၂၄.၅၇ | ၂၅၄.၂၄ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ၇ နှစ်မြောက်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၈၄.၇၅ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၄၅.၇၆ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၁၃ နှစ် ၉ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၁၀.၀၁ % ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြု လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရှမ်းပြည်နယ်အစိုးရအဖွဲ့** နောက်ဆက်တွဲ-က

အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ ၁၁-၃-၂၀၁၆ ရက်တွင် ကျင်းပပြုလုပ်သော ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပြည်နယ်ဝန်ကြီးများ လုပ်ငန်းညှိနှိုင်းအစည်းအဝေး အမှတ်စဉ် (၁-၃/၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ် ၄(၁-ဆ)အရ ရှမ်းပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** **နောက်ဆက်တွဲ-ခ**

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေး အကျိုးပြုလုပ်ငန်းများ တာဝန်ခံ ဆောင်ရွက်မှု(Corporate Social Responsibility-CSR)အတွက် အသားတင် အမြတ်ငွေ၏ (၂%)ကို အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း** (Initial Environmental Examination -IEE)ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံရေးသားပြုစုတင်ပြရန်။

(၃) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan - EMP)အား ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာတို့အား ရေးဆွဲတင်ပြရန်အတွက် E Guard Environmental Services Co., Ltd. သို့ အပ်နှံ၍ ၂၀၁၆ ခုနှစ် မတ်လ ၂၅ ရက်နေ့တွင် စတင်အကောင်အထည်ဖော် ဆောင်ရွက်နေပြီ ဖြစ်ကြောင်း တင်ပြထားပါသည်။)**

(ဂ) **ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန** **နောက်ဆက်တွဲ-ဂ**

(၁) ခရီးသွားလုပ်ငန်း ကဏ္ဍအရှိန်အဟုန်ဖြင့် ဖွံ့ဖြိုးတိုးတက်လာမှုနှင့်အတူ စီးပွားရေးလုပ်ငန်းရှင်များသည် ကိုယ်ပိုင်ဟိုတယ်များကို အပြိုင်အဆိုင်ဆောက်လုပ်လာကြ

သဖြင့် ပုဂ္ဂလိကပိုင်ဟိုတယ်များသည် သစ်လွင်တောက်ပနေပြီး နိုင်ငံပိုင်ဟိုတယ်များမှာမူ ငှားရမ်းကာလတိုတောင်းသဖြင့် ငှားရမ်းဆောင်ရွက်လုပ်ကိုင်သူများမှ ဟိုတယ်ကို အကြီးစားပြုပြင်ဆင်လုပ်ကိုင်မှု နည်းပါးခြင်းတို့ကြောင့် နိုင်ငံပိုင်ဟိုတယ်များ၏ သစ်လွင်တောက်ပမှု အထောက်အကူပြုပစ္စည်းသုံးစွဲမှုနှင့် ဝန်ဆောင်မှုစွမ်းရည်ပြည့်ဝမှုအပိုင်းတွင် အားနည်းလျက်ရှိကြောင်း၊ ပုဂ္ဂလိက လုပ်ငန်းရှင်များသို့ ငှားရမ်းထားသည့် နိုင်ငံပိုင် ဟိုတယ်၊ မိုတယ်များနှင့် အဆင့်မြင့် စားသောက်ခန်းမတို့ကို နှစ်ရှည်ငှားရမ်းလုပ်ကိုင်နိုင်ရန် ငှားရမ်းကာလကို နှစ်ရှည် ငှားရမ်း လုပ်ကိုင်ခွင့်ပြုပါက ပုဂ္ဂလိက လုပ်ငန်းရှင်များသည် ရင်းနှီးမြှုပ်နှံမှုများ ပိုမိုတိုးချဲ့ဆောင်ရွက်လာမည်ဖြစ်၍ နိုင်ငံပိုင်ဟိုတယ်များသည် ပုဂ္ဂလိကဟိုတယ်များ နှင့် ရင်ပေါင်တန်းနိုင်ပြီး ဟိုတယ်လုပ်ငန်းကို တိုးချဲ့လုပ်ကိုင်ခြင်းဖြင့် ပြည်သူတို့အတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုပေါ်ပေါက်လာနိုင်မည် ဖြစ်ပါကြောင်း။

(၂) နှစ်စဉ်မြေငှားရမ်းခ ကျပ် သန်း ၆၀ သည် လက်ရှိကာလတိုငှားရမ်းထားသောနှုန်းဖြစ်ပြီး၊ အဆိုပါနှုန်းသည် ဒေသ အခြေအနေပေါ်မူတည် သတ်မှတ်ခဲ့ခြင်းမဟုတ်ဘဲ အိတ်ဖွင့်တင်ဒါ စနစ်ဖြင့် ယှဉ်ပြိုင်ရွေးချယ် သတ်မှတ်သောနှုန်း ဖြစ်ပါသဖြင့် သင့်လျော်သောနှုန်းထား ဖြစ်ပါကြောင်း။

(၃) ကုမ္ပဏီမှ မြေအသုံးချခ ကျပ် ၂၅ သန်းကို တစ်လုံးတစ်ခဲတည်း ပေးသွင်းမည်ဖြစ်ပြီး ကျပ် ၃၈၂၄ သန်း ထပ်မံ ရင်းနှီးမြှုပ်နှံဆောင်ရွက်မည် ဖြစ်သည့်အတွက် တင်ပြပါ မြေအသုံးချခသည်လည်း လျော်ကန်မှု ရှိပါကြောင်း။

(၄) ငှားရမ်းမည့်ကာလအနေဖြင့် ၎င်းတို့ မူလစတင်ငှားရမ်းသောနေ့ ၁-၄-၂၀၁၄ မှ စတင်၍ ငှားရမ်းကာလကို သတ်မှတ်ရေတွက်သွားမည်ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခနှုန်းထားအား ၄ နှစ် တစ်ကြိမ် ပြန်လည်သုံးသပ်တိုးမြှင့် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း။

(၅) ယခုအဆိုပြုတင်ပြလာသည့် ကျိုင်းတုံဟိုတယ်ဟောင်း အနေဖြင့် ဤဝန်ကြီးဌာနသို့ ပေးဆောင်ရန် နှစ်စဉ်မြေငှားရမ်းခ ကြွေးကျန်နှင့် အခြားဌာနများသို့ ပေးဆောင်ရမည့် အခွန်အခကြွေးကျန်များ မရှိကြောင်း။

၁၁။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ၏ မန်နေဂျင်းဒါရိုက်တာ ဦးဘုန်းမြင့်၏အမည်ဖြင့် CB Bank တွင် (၄-၃-၂၀၁၆) ရက်စွဲဖြင့် လက်ကျန်ငွေ ကျပ် သန်း ၆၀၀.၀၁ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ Sein Myint Mo Tours And Travels Co., Ltd. မှ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓာတ်အားများ သုံးစွဲမှုအတွက် နိုင်ငံတော်မှ လျှပ်စစ်ဓါတ်အားကိုရရှိပါက သုံးစွဲမည်ဖြစ်ပြီး လျှပ်စစ်ဓါတ်အား မရရှိသည့်အခါတွင် ကိုယ်ပိုင်မီးစက် Generator 65 KVA ဖြင့် လုပ်ငန်းလည်ပတ်သွားမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ အဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံသားများဖြင့်သာ ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီဖြစ်ပါကြောင်း၊ နိုင်ငံခြားမှ နိုင်ငံခြားသား မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်

ရာတွင် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက် နှင့် လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက် အစီအစဉ်တို့အား ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ နှစ်စဉ်အသားတင်အမြတ်ငွေ ၂ % အား လူမှုရေးဆိုင်ရာ တာဝန်ယူမှု(CSR)အဖြစ် သုံးစွဲသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ဂ၊စ၊ဆ၊ဇ၊ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ (က) အဆိုပြုလုပ်ငန်းတွင် မူလအဆောက်အဦများအား ဖျက်သိမ်းပြီး Deluxe (၄၈)ခန်းပါ ၃ ထပ် အဆောက်အဦ (၁)လုံး၊ Deluxe (၁၈)ခန်းပါ ၃ ထပ် အဆောက်အဦ (၁)လုံး၊ Suite (၄)ခန်းပါ ၂ ထပ် အဆောက်အဦ (၅)လုံး နှင့် Swimming Pool (၁)ခု တို့အား အစားထိုးတည်ဆောက်သွားမည်ဖြစ်ပြီး စုစုပေါင်း ၈၆ ခန်းဖြင့် လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ခ) လုပ်ငန်းဆောင်ရွက်မည့်မြေမှာ မြေစာရင်းပုံစံ (၁၀၅) ရေးကူးခွင့်ရရှိထားသည့်အပြင် မြန်မာ့ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာနပိုင် အမည်ပေါက် ရရှိထားကြောင်း အထောက်အထား တင်ပြထားပါသည်။

(ဂ) ကျိုင်းတုံပါရာဒိုက်(စ်)ဟိုတယ်အမည်ဖြင့် ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနမှ ထုတ်ပေးသော **ဟိုတယ်နှင့်တည်းခိုရိပ်သာလုပ်ငန်းလိုင်စင်** ရရှိထားပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ Sein Myint Mo Tours And Travels Co., Ltd. မှ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနပိုင် ရှမ်းပြည်နယ်အရှေ့ပိုင်း၊ ကျိုင်းတုံခရိုင်၊ ကျိုင်းတုံမြို့နယ်၊ ကျိုင်းတုံ ဟိုတယ်ဟောင်း (ကျိုင်းတုံ ပါရာဒိုက်စ်)အား B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးပြီးဖြစ်သည့် ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနပိုင် ဧရာဝတီတိုင်းဒေသကြီး နှင့် ရှမ်းပြည်နယ် တို့ရှိ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများ၏ မြေငှားရမ်းခနှုန်းထားများအား နှိုင်းယှဥ်တင်ပြခြင်း

| စဥ် | ကုမ္ပဏီအမည် နှင့် ခွင့်ပြုမိန့်အမှတ် | လုပ်ငန်း အမျိုးအစား | တည်နေရာ | မြေအကျယ်အဝန်း (ဧက) | တစ်နှစ် မြေငှားရမ်းခ | L.U.P | မြေငှားကာလ | ရင်းနှီးမြှုပ်နှံမှု |
|---|---|---|---|---|---|---|---|---|
| (၁) | Sky One Construction Co., Ltd. ၁၁၂၁/၂၀၁၆ ၁၉-၁-၂၀၁၆ | B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ဧရာဝတီတိုင်းဒေသကြီး၊ ရွှေသောင်ယံမြို့နယ်၊ ချောင်းသာကမ်းခြေ၊ မြေကွက်အမှတ်(ဈ-၂) | ၂၂.၂၀ | ကျပ် (၁၀၄၀) သန်းကို တစ်နှစ်လျှင် (၄)ကြိမ်ခွဲ၍ ပေးသွင်းရမည်။ | ကျပ် (၈၈၀) သန်း အနက် စာချုပ် လက်မှတ် ရေးထိုးသည့်နေ့မှ (၁)လ အတွင်း ပထမ အကြိမ် (၅၀%) အား လည်းကောင်း၊ စာချုပ်ချုပ်ဆိုပြီး (၁) နှစ်အတွင်း (၅၀%) အား လည်းကောင်း နှစ်ကြိမ်ခွဲ၍ပေးသွင်းရမည် ဖြစ်သည်။ | ၅၀+၁၀+၁၀ | MCIL |
| (၂) | Good To Go Travels & Tours Co., Ltd. ၁၁၂၂/၂၀၁၆ ၁၉-၁-၂၀၁၆ | B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ် (ရွှေသောင်ယံ မြို့နယ်ခွဲ)၊ ချောင်းသာ ကမ်းခြေ၊ မြေကွက် အမှတ် - ဈ(၃) | ၃.၀၈ | ကျပ် ၄၂၀ သန်းကို တစ်နှစ်လျှင် (၄) ကြိမ် ခွဲ၍ ပေးသွင်းရမည်။ | ကျပ်(၂၁၅.၆)သန်း အနက် စာချုပ် လက်မှတ်ရေးထိုး သည့် နေ့မှ (၁)လ အတွင်း ပထမ အကြိမ် (၅၀%) အား လည်းကောင်း၊ စာချုပ်ချုပ်ဆိုပြီး (၁) နှစ်အတွင်း (၅၀%) အား လည်းကောင်း နှစ်ကြိမ်ခွဲ၍ပေးသွင်း ရမည် ဖြစ်သည်။ | ၅၀+၁၀+၁၀ | MCIL |
| (၃) | Lighting Specialist Co., Ltd. ၁၁၆၅/၂၀၁၆ ၂၆-၃-၂၀၁၆ | B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလော မြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ဦးပိုင် အမှတ်(၂၀)၊ အကွက် အမှတ် ၄၄၊ မြေအမှတ် ၈၄/A | ၆.၆၃၅ | တစ်နှစ်လျှင် ကျပ် သန်း ၁၆၀ ကို တစ်နှစ် လျှင်(၄)ကြိမ်ခွဲ၍ ပေးသွင်း ရမည်။ | ကျပ် သန်း ၅၀ အား တစ်လုံး တစ်ခဲတည်း အပြီးပေးသွင်းရမည် ဖြစ်သည်။ | ၅၀+၁၀+၁၀ | MCIL |




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

စာအမှတ်၊ (၃၅၁၂ )/၁-၃/၂၀၁၆/အစရ(ရှမ်း)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ၊ မတ်လ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း
ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။
(၁) ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၂၄-၂-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ၁၈ ဂ(အုပ်ချုပ်မှု)/နပတ/၀၅၂၉
(၂) ခရိုင်စီမံခန့်ခွဲမှုကော်မတီ၊ ကျိုင်းတုံမြို့၏ ၂၄-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၅/၁၄-၁/ဦး ၆
(၃) Sein Myint Mo Tours & Travels Co.,Ltd. ၏ (၁-၃-၂၀၁၆) ရက်စွဲပါတင်ပြစာ

၁။ စိန်မြင့်မိုရ်ခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်သည် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနပိုင် ကျိုင်းတုံဟိုတယ်ဟောင်း(ကျိုင်းတုံပါရာဒိုက်စ်ဟိုတယ်)အား ၁၉၉၄ခုနှစ်မှ စတင်၍ နှစ်ရှည်သက်တမ်း ငှားရမ်းဆောင်ရွက် လုပ်ကိုင်ခွင့်ရရှိခဲ့ရာ ၂၀၁၄ခုနှစ်တွင် ငှားရမ်းကာလ သက်တမ်းနှစ်(၂၀)ပြည့်ပြီးဖြစ်ကြောင်း၊ အဆိုပါ ကျိုင်းတုံ ဟိုတယ်ဟောင်းအား စိန်မြင့်မိုရ်ခရီးသွားလုပ်ငန်းကုမ္ပဏီသို့ပင် ၂၀၁၄ခုနှစ်မှ ၂၀၂၉ခုနှစ်အထိ နှစ်ရှည်သက်တမ်းနောက်ထပ်(၁၅)နှစ် ဆက်လက်ငှားရမ်း လုပ်ကိုင်ခွင့်ပြုခဲ့ကြောင်း၊ ကုမ္ပဏီအနေဖြင့်လည်း ဟိုတယ်နှင့် ခရီးသွားလုပ်ငန်းကဏ္ဍကို တိုးမြှင့်ဆောင်ရွက်၍ ပြည်ပဝင်ငွေတိုးမြှင့်ရှာဖွေနိုင်ရန်နှင့် ဟိုတယ်အား အဆင့်မြှင့်တိုးချဲ့ ရင်းနှီးမြှုပ်နှံ ဆောင်ရွက်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ နှစ်ရှည်သက်တမ်း နှစ်(၅၀+၁၀+၁၀) ဆောင်ရွက်ခွင့်ရရှိရေး အဆိုပြုလွှာတင်သွင်း လျှောက်ထားရန် ဆောင်ရွက်လျက်ရှိပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ (၁၈.၂.၂၀၁၆)ရက်တွင် ကျင်းပခဲ့သော ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၏ စီမံခန့်ခွဲမှုကော်မတီ အစည်းအဝေး ဆုံးဖြတ်ချက်အရ ကျိုင်းတုံဟိုတယ်ဟောင်း(ပါရာဒိုက်စ်)ဟိုတယ်အား မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ နှစ်ရှည်သက်တမ်း (၅၀+၁၀+၁၀)ဖြင့် ရင်းနှီးမြှုပ်နှံ ငှားရမ်းဆောင်ရွက် လုပ်ကိုင်ခွင့်ပြုနိုင်ရေး နိုင်ရေးလျှောက်ထားဆောင်ရွက်သွားရန် စိန်မြင့်မိုရ်ခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်သို့ အကြောင်းကြားထားကြောင်း၊ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှလည်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု

ကော်မရှင်သို့ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ငှားရမ်းခွင့်ပြုနိုင်ရန် ရည်ညွှန်း(၁) ပါ စာဖြင့် တင်ပြထားရှိပါသည်။

၃။ ကျိုင်းတုံဟိုတယ်ဟောင်း(ကျိုင်းတုံပါရာဒိုက်စ်ဟိုတယ်)အား အဆင့်မြှင့်တိုးချဲ့ ရင်းနှီးမြှုပ်နှံ၍ နှစ်ရှည်ဆောင်ရွက်မည်ဆိုပါက ကျိုင်းတုံခရိုင်တွင် လက်ရှိ(သို့မဟုတ်) နောင်တွင်ပြုလုပ်မည့် လျာထား သတ်မှတ်သည့် မြို့ပြလုပ်ငန်းစီမံကိန်းများကို ထိခိုက်နိုင်မှုမရှိခြင်း၊ ဒေသအတွင်း ဒေသခံပြည်သူများ အတွက် အလုပ်အကိုင် အခွင့်အလမ်းများ ပေါ်ထွန်းနိုင်သည့်အခြေအနေ အလားအလာများ ပေါ်ထွန်းလာ နိုင်ခြင်း၊ ဒေသအတွင်း ဖွံ့ဖြိုးတိုးတက်ရေးအတွက် ထိရောက်သော အကျိုးသက်ရောက်မှုနှင့် အထောက် အကူဖြစ်မှု အနေအထားများ ပေါ်ပေါက်လာနိုင်ခြင်း၊ ဒေသခံပြည်သူများ၏ လူမှုရေး၊ စီးပွားရေးနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုဆိုင်ရာ ကိစ္စရပ်များနှင့် စပ်လျဉ်း၍ ထိခိုက်မှုမရှိခြင်းတို့ကြောင့် ကန့်ကွက်ရန် မရှိပါကြောင်း ခရိုင်စီမံခန့်ခွဲမှုကော်မတီ၊ ကျိုင်းတုံမြို့မှ ရည်ညွှန်း(၂)ပါစာဖြင့် ထောက်ခံ တင်ပြလာပါသည်။

၄။ အထက်ပါကိစ္စ နှင့်ပတ်သက်၍ ၁၁-၃-၂၀၁၆ ရက်တွင် ကျင်းပပြုလုပ်သော ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပြည်နယ်ဝန်ကြီးများ လုပ်ငန်းညှိနှိုင်းအစည်းအဝေး အမှတ်စဉ် (၁-၃/၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ် ၄(၁-ဆ)အရ ရှမ်းပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပေးပို့ပါသည်။

၁၅-၃-၂၀၁၆

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
(အောင်ကျော်ညွန့်၊ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီး)

မိတ္တူကို
- စိန်မြင့်မိုရ်ခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်၊ ကျိုင်းတုံမြို့
- ရုံးလက်ခံ
- မျှောစာတွဲ

MI3-9၄၄
၃၄/၃.




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝ၀၁/ MIC(OSS) /၀၁( ၁၀၆ / ၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် မတ် လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Sein Myint Mo Tours & Travels Co.,Ltd မှ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၃-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၄၉/ ၂၀၁၆(၄၄၅)

၁။ Sein Myint Mo Tours & Travels Co.,Ltd မှ ရှမ်းပြည်နယ်အရှေ့ပိုင်း၊ ကျိုင်းတုံခရိုင်၊ ကျိုင်းတုံဟိုတယ်ဟောင်း(ကျိုင်းတုံပါရာဒိုက်စ်)၏ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနပိုင်မြေဧရိယာ ၁.၃၇၄ဧကတွင် BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၃)နှစ်ဖြစ်ကြောင်း၊ ဟိုတယ်တွင်စုစုပေါင်း(၈၆)ခန်းထည့်သွင်းတည်ဆောက်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့်သာယာပျော်ရွှင်ရေးအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုအစီအစဉ်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility–CSR )လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ဆောက်လုပ်ရေးလုပ်ငန်းများမှထွက်ရှိလာမည့်မြေစာများနှင့်အခြားစွန့်ပစ်ပစ္စည်းများအားအမျိုးအစားအလိုက်သတ်

မှတ်နေရာများတွင် စနစ်တကျစွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ ရေနုတ်မြောင်းများအား ရေစီးရေလာကောင်းမွန်အောင်ပြုပြင်ခြင်းလုပ်ငန်းများကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် Waste Water Treatment Plan တပ်ဆင်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ Sein Myint Mo Tours & Travels Co.,Ltd မှ ဟိုတယ်တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ခြင်းကြောင့် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းမှထွက်ရှိလာမည့်အမှုန်အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊ အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အမှိုက်များနှင့်မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်လေထု၊ မြေထု၊ ရေထုညစ်ညမ်းခြင်း၊ ဟိုတယ်၏မီးဖိုချောင်နှင့်စားသောက်ခန်းများမှထွက်ရှိလာမည့် စားကြွင်းစားကျန်များနှင့်စွန့်ပစ်အမှိုက်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Sein Myint Mo Tours & Travels Co.,Ltd မှ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility–CSR )အတွက် အသားတင်အမြတ်ငွေ၏ (၂%)ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း( Initial Environmental Examination –IEE )** ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Manangement Plan – EMP )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ (ဂ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈-ဂ (အုပ်ချုပ်မှု) /နပတ/ ၀၅၂၉
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂၄ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **နိုင်ငံပိုင်ငှားရမ်းထားသော ကျိုင်းတုံဟိုတယ်ဟောင်း (ကျိုင်းတုံပါရာဒိုက်စ်) ဟိုတယ်ကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁)ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ (၃၀-၆-၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ၁၈-ဂ(အုပ်ချုပ်မှု)နပတ/၂၁၁၄

(၂)ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ (၁၇-၈-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၂၁-ခ (ဘဏ္ဍာရေး) နပတ/၂၄၄

၁။ မြန်မာနိုင်ငံသို့လာရောက်လည်ပတ်သည့် ကမ္ဘာလှည့်ခရီးသည်များ တစ်နှစ်ထက်တစ်နှစ် တိုးတက်များပြားလာသည်နှင့်အမျှ ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းများသည်လည်း အရှိန်အဟုန်ဖြင့် ဖွံ့ဖြိုးတိုးတက်လျက်ရှိပါသည်။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနအနေဖြင့်ပြောင်းလဲလာသော စီးပွားရေးစနစ်နှင့်အညီ ပုဂ္ဂလိကကဏ္ဍဖွံ့ဖြိုးတိုးတက်စေရေးအတွက် နိုင်ငံပိုင် ဟိုတယ်၊ မိုတယ်၊ ခန်းမနှင့် အဆောက်အဦ (၂၃) လုံးကို ၁၉၉၄ ခုနှစ်မှစတင်၍ မြန်မာနိုင်ငံသား ပုဂ္ဂလိက လုပ်ငန်းရှင်အသီးသီးသို့ နှစ်ကာလအလိုက်နှစ်ဖက်သဘောတူစာချုပ်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့်ပြု လျက်ရှိပါသည်။ (နောက်ဆက်တွဲ-က)

၂။ ဤသို့ဆောင်ရွက်ရာတွင်လက်ရှိ ငှားရမ်းလုပ်ကိုင်သူပုဂ္ဂလိက လုပ်ငန်းရှင်များမှမိမိတို့၏ လုပ်ငန်းများကိုကာလရှည်ရင်းနှီးမြှုပ်နှံဆောင်ရွက်နိုင်ရေး၊ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်

အညီ ဆောင်ရွက်ခွင့်ပြုရေးတို့အတွက် စီးပွားရေးဖိုရမ်များတွင် တင်ပြလေ့ရှိရာ ဤဝန်ကြီးဌာန အနေဖြင့် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီသို့ ရည်ညွှန်း (၁) ပါစာဖြင့် တင်ပြပေးခဲ့ပါသည်။ ကော်မတီမှ ငှားရမ်းသက်တမ်းပေါ်အခြေခံ၍ မိမိဝန်ကြီးဌာန၊ အလုပ်အမှုဆောင်ကော်မတီအစည်းအဝေးဆုံးဖြတ်ချက်ဖြင့်ဆောင်ရွက်ခြင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့တင်ပြခွင့်ပြုချက်ရယူ ဆောင်ရွက်ခြင်းနှင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်တို့သို့ တင်ပြခွင့်ပြုချက်ရယူဆောင်ရွက်ခြင်းတို့ဖြင့် ဆောင်ရွက်ရန်ဆုံးဖြတ်ခဲ့ပါသည်။ (နောက်ဆက်တွဲ-ခ)

၃။ အဆိုပါဆုံးဖြတ်ချက်နှင့်အညီ နိုင်ငံပိုင်ဟိုတယ်၊ မိုတယ်များနှင့် အဆင့်မြင့်စားသောက်ခန်းမကိုလက်ရှိငှားရမ်းဆောင်ရွက်လျှက်ရှိသောပုဂ္ဂလိကလုပ်ငန်းရှင်များသို့နှစ်ရှည်ငှားရမ်းလုပ်ကိုင်ခွင့်ပြုမည်ဆိုပါကလက်ရှိငှားရမ်းလုပ်ကိုင်နေသည့် ပုဂ္ဂလိကလုပ်ငန်းရှင်များထံမှမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ၊လုပ်ထုံးလုပ်နည်းများနှင့်အညီ အဆိုပြုချက်တို့ကို ပြည့်စုံစွာတင်ပြစေပြီး ဤဝန်ကြီးဌာနမှ စိစစ်၍အလုပ်အမှုဆောင်ကော်မတီ၏အဆုံးအဖြတ်ရယူကာမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြနိုင်ရေး ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရည်ညွှန်းချက်(၂)ပါစာဖြင့် တင်ပြထားပါသည်။ (နောက်ဆက်တွဲ-ဂ)

၄။ ယခုအခါတွင်ရှမ်းပြည်နယ်၊ကျိုင်းတုံမြို့၊ကျိုင်းရင်းရပ်တောင်ခုတ်လမ်း၊ကျိုင်းတုံစော်ဘွားဟော်ဝင်းရှိမြေဧရိယာ(၁.၃၇၄) ဧက ပေါ်တွင်လက်ရှိအခန်း (၂၄) ခန်းပါ ကျိုင်းတုံဟိုတယ်ဟောင်းကို မြေအသုံးချခကျပ်သန်း(၂၅)၊ နှစ်စဉ် မြေငှားရမ်းခတစ်နှစ်လျှင် ကျပ်သန်း(၆၀) ပေးသွင်းပြီး ကျပ်သန်း(၃၈၂၄)ခန့်ထပ်မံရင်းနှီးမြှုပ်နှံ၍ လက်ရှိအခန်းများကိုအဆင့်မြှင့်ခြင်း၊ တိုးချဲ့တည်ဆောက်ခြင်းများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကနဦးနှစ်(၅၀)နှင့်တစ်ဆက်တည်း သက်တမ်းတိုးခွင့် (၁၀) နှစ်နှစ်ကြိမ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်လိုပါကြောင်း၊ လက်ရှိငှားရမ်းဆောင်ရွက်နေသော ဒေါက်တာဘုန်းမြင့် (စိန်မြင့်မိုရ်ခရီးသွားလုပ်ငန်း) မှအဆိုပြုတင်ပြလာပါသည်။

(နောက်ဆက်တွဲ-ဃ)

၅။ ဒေါက်တာဘုန်းမြင့်၏ အဆိုပြုတင်ပြချက်အပေါ်တွင် ဤဝန်ကြီးဌာနအနေဖြင့် အောက်ပါအတိုင်း သုံးသပ်တင်ပြအပ်ပါသည်-

(က) ခရီးသွားလုပ်ငန်းကဏ္ဍအရှိန်အဟုန်ဖြင့် ဖွံ့ဖြိုးတိုးတက်လာမှုနှင့်အတူ စီးပွားရေးလုပ်ငန်းရှင်များသည် ကိုယ်ပိုင်ဟိုတယ်များကို အပြိုင်အဆိုင်ဆောက်လုပ်လာကြသဖြင့်ပုဂ္ဂလိကပိုင်ဟိုတယ်များသည် သစ်လွင်တောက်ပနေပြီးနိုင်ငံပိုင်ဟိုတယ်များမှာမူငှာရမ်းကာလတိုတောင်းသဖြင့်ငှားရမ်းဆောင်ရွက်လုပ်ကိုင်သူများမှ ဟိုတယ်ကို အကြီးစားပြင်ဆင်လုပ်ကိုင်မှုနည်းပါးခြင်းတို့ကြောင့် နိုင်ငံပိုင်ဟိုတယ်များ၏ သစ်လွင်တောက်ပမှု အထောက်အကူပြုပစ္စည်းသုံးစွဲမှုနှင့် ဝန်ဆောင်မှုစွမ်းရည်ပြည့်ဝမှုအပိုင်းတွင်အားနည်းလျှက်ရှိကြောင်းတွေ့ရှိရပါသည်။ ပုဂ္ဂလိကလုပ်ငန်းရှင်များသို့ငှားရမ်းထားသည့် နိုင်ငံပိုင် ဟိုတယ်၊ မိုတယ်များနှင့် အဆင့်မြင့်စားသောက်ခန်းမ ကိုနှစ်ရှည်ငှားရမ်းလုပ်ကိုင်နိုင်ရန်ငှားရမ်းကာလကိုနှစ်ရှည်ငှားရမ်း လုပ်ကိုင်ခွင့်ပြုလိုက်ပါကပုဂ္ဂလိကလုပ်ငန်းရှင်များသည် ရင်းနှီးမြှုပ်နှံမှုများပိုမိုတိုးချဲ့ဆောင်ရွက်လာမည်ဖြစ်၍ နိုင်ငံပိုင်ဟိုတယ်များသည် ပုဂ္ဂလိကဟိုတယ်များနှင့် ရင်ပေါင်တန်းနိုင်ပြီး ဟိုတယ်လုပ်ငန်းကို တိုးချဲ့လုပ်ကိုင်ခြင်းဖြင့် ပြည်သူတို့အတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုပေါ်ပေါက်လာနိုင်မည်ဖြစ်ပါသည်။

(ခ) အဆိုပြုတင်ပြလာသော နှစ်စဉ်မြေငှားရမ်းခသည် ကျပ်သန်း (၆၀) ဖြစ်ပါသည်။ ယင်းနှုန်းသည် လက်ရှိကာတိုငှားရမ်းထားသောနှုန်းဖြစ်ပြီး၊ အဆိုပါနှုန်းသည်ဒေသအခြေအနေပေါ်မူတည် သတ်မှတ်ခဲ့ခြင်းမဟုတ်ဘဲ အိတ်ဖွင့်တင်ဒါစနစ်ဖြင့် ယှဉ်ပြိုင်ရွေးချယ်သတ်မှတ်သောနှုန်းဖြစ်ပါသဖြင့် သင့်လျော်သောနှုန်းထားဖြစ်ပါသည်။

(ဂ) ကုမ္ပဏီမှ မြေအသုံးချခနှင့်စပ်လျဉ်း၍ ကျပ်သန်း (၂၅) ကိုတစ်လုံးတစ်ခဲတည်းပေးသွင်းမည်ဖြစ်ပါသည်။ အဆိုပါတန်ဖိုးနှင့်အတူလုပ်ငန်းရှင်အနေဖြင့် ဟိုတယ်တွင်ကျပ်သန်း (၃၈၂၄) ထပ်မံရင်းနှီးမြှုပ်နှံဆောင်ရွက်မည်ဖြစ်သည့်အတွက်တင်ပြပါမြေအသုံးချခသည်လည်း လျော်ကန်မှုရှိပါသည်။

(ဃ) ငှားရမ်းမည့်ကာလအနေဖြင့် ရင်းတို့ မူလစတင်ငှားရမ်းသောနေ့ (၁-၄-၂၀၁၄) မှစတင်၍ငှားရမ်းကာလကိုသတ်မှတ်ရေတွက်သွား မည်ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခနှုန်းထားအား(၄) နှစ်တစ်ကြိမ် ပြန်လည်သုံးသပ်တိုးမြှင့် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(င) ယခုအဆိုပြုတင်ပြလာသည့် ကျိုင်းတုံဟိုတယ်ဟောင်း အနေဖြင့် ဤဝန်ကြီးဌာနသို့ ပေးဆောင်ရန် နှစ်စဉ်မြေငှားရမ်းခကြွေးကျန်နှင့်အခြားဌာနများသို့ ပေးဆောင်ရမည့် အခွန်အခကြွေးကျန်များမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၆။ ယခုတင်ပြလာသည့် ကျိုင်းတုံဟိုတယ်ဟောင်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေပါ ငှားရမ်း ကာလနှစ် (၅၀+၁၀+၁၀) ငှားရမ်းခွင့်ပြုမည်ဆိုပါက ဤဝန်ကြီးဌာနနှင့် ငှားရမ်းလုပ်ကိုင်သူတို့အကြား ရေးထိုးမည့် Build, Operate and Transfer (BOT)စာချုပ်များကို ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ဥပဒေဆိုင်ရာအကြံပြုချက်များနှင့်အညီ ပြုစု၍ ချုပ်ဆိုဆောင်ရွက်သွားပါမည်။

၇။ သို့ဖြစ်ပါ၍ နိုင်ငံသားပုဂ္ဂလိကလုပ်ငန်းရှင်များအပါအဝင်ပြည်သူများအနေဖြင့်နိုင်ငံတော်အစိုးရ၏အချိန်နှင့်အမျှပြုပြင်ပြောင်းလဲဆောင်ရွက်ပေးမှုကို ပွင့်လင်းမြင်သာစွာတွေ့ရှိနိုင်ရေး၊နိုင်ငံပိုင်ဟိုတယ်များအဆင့်အတန်းမြင့်မားလာရေး၊ နှစ်ကာလကြာမြင့်စွာ ဆက်လက်တည်ရှိနိုင်ရေး၊ ပုဂ္ဂလိကလုပ်ငန်းရှင်များ လုပ်ငန်းဆောင်ရွက်မှု ပိုမိုအဆင်ပြေချောမွေ့စေရေးအတွက် ကျိုင်းတုံဟိုတယ်ဟောင်းကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ငှားရမ်း လုပ်ကိုင်ခွင့်ပြုနိုင်ပါရန်တင်ပြအပ်ပါသည်။

၂၄.၂.၂၀၁၆

(ဦးဌေးအောင်)

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ

မျှော

# SEIN MYINT MO TOURS AND TRAVELS

# COMPANY LIMITED

# စိန်မြင့်မိုရ် တိုး(စ်)အင်(န်)

# ထရားဗဲ(လ်စ်)ကုမ္ပဏီလီမိတက်

မှ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

သို့

ရှမ်းပြည်နယ်အရှေ့ပိုင်း၊ ကျိုင်းတုံခရိုင်၊ ကျိုင်းတုံမြို့နယ်၊
ကျိုင်းတုံ (Paradise) ဟိုတယ်၊ (ကျိုင်းတုံဟိုတယ်ဟောင်း)
၏မြေ (၁. ၃၇၄) ဧကတွင်
BOT စနစ်ဖြင့်
နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်း
ဆောင်ရွက်ခွင့်အဆိုပြုလွှာ

# SEIN MYINT MO TOURS & TRAVELS CO.,LTD.

**Bldg : 38, Room (11), 1st Floor, Shwe Ohn Pin Housing , Yankin Township, Yangon.**

**Tel:** **Fax:**

သို့

ဥက္ကဋ္ဌ
မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ၂၀၁၆ ခုနှစ်၊ မတ်လ (    ) ရက်။

အကြောင်းအရာ ။ ။ **ကျိုင်းတုံဟိုတယ်ဟောင်း (ကျိုင်းတုံပါရာဒိုက်စ်) ဟိုတယ်၏ မူလတိုးချဲ့ ဆောက်လုပ်မှုအတွက် လိုအပ်သည့် IEEနှင့် EMP ကဏ္ဍတို့အား တွေ့ရှိလမ်းညွှန်ချက်အတိုင်း ဆောင်ရွက်မည့် ခံဝန်ကတိစာ Under Taking Letter ပေးပို့တင်ပြခြင်း။**

အထက်ပါအကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ မိမိ၏ စိန်မြင့်မိုရ် ခရီးသွားလုပ်ငန်းမှ ကျိုင်းတုံ ဟိုတယ်ဟောင်း (ကျိုင်းတုံပါရာဒိုက်စ်ဟိုတယ်) အား မူလရှိပြီးအနေအထားမှ တိုးချဲ့ဆောက်လုပ်ရာတွင် လိုအပ်သော IEE နှင့် EMP ကဏ္ဍတို့အား ဆောင်ရွက်ရန်အတွက် E guard Environmental Services Company Ltd. နှင့် လုပ်ငန်းအပ်နှံဆောင်ရွက်လျက်ရှိပါသည်။

သို့ဖြစ်ပါ၍ ကျိုင်းတုံဟိုတယ်ဟောင်း (ကျိုင်းတုံပါရာဒိုက်စ်ဟိုတယ်) တိုးချဲ့ဆောင်ရွက်ရာတွင် IEE တွေ့ရှိချက်နှင့် EMP အစီအစဉ်များအား အမြန်ဆုံးဆောင်ရွက်ပြီး ဆက်လက်တင်ပြ၍ EMP အစီအစဉ် ပါလမ်းညွှန်ချက်များအတိုင်း လုပ်ငန်းများအား တိုးချဲ့ဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းမှုလုပ်ငန်းများအတွက် အပ်နှံထားသော ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်လျက် ရှိကြောင်း တင်ပြထားသောစာအား ပူးတွဲတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါက်တာဘုန်းမြင့်
မန်နေးဂျင်းဒါရိုက်တာ
စိန်မြင့်မိုရ်ခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်




**E Guard Environmental Services Company Limited**
No.99, MyaKanThar Lane, NyeinChanYay Street, 10 Miles, Pyay Road, Sawbwargyigone Quarter, Insein Township, Yangon 11011, the Republic of the Union of Myanmar.
Tel: 95 1 667953, 95 9 421108946, Email info@eguardservices.com www.eguardservices.com



သို့

Managing Director
Sein Myint Mo Tours & Travels Co., Ltd.

စာအမှတ်။ ။ 0086/ E Guard /SMM/ 2016
ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်၊ မတ်လ၊ (၂၈) ရက်၊

အကြောင်းအရာ ။ ။ **လုပ်ငန်းစတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း တင်ပြခြင်း၊**

၁။ Sein Myint Mo Tours & Travels Co., Ltd. နှင့် E Guard Environmental Services Co., Ltd. တို့ ၂၀၁၆ခုနှစ်၊ မတ်လ၊ (၂၃)ရက်နေ့တွင် ကျိုင်းတုံဟိုတယ်ဟောင်း (ကျိုင်းတုံပါရာဒိုက်စ်ဟိုတယ်)အား ၁၉၉၄ခုနှစ်မှ စတင်၍ နှစ်ရှည်သက်တမ်း ငှားရမ်းဆောင်ရွက် လုပ်ကိုင်ခွင့်ရရှိခဲ့ရာ ၂၀၁၄ခုနှစ်တွင် ငှားရမ်းကာလ သက်တမ်းနှစ်(၂၀) ပြည့်ပြီဖြစ်ကြောင်း၊ အဆိုပါ ကျိုင်းတုံဟိုတယ်ဟောင်းအား ၂၀၁၄ခုနှစ်မှ ၂၀၂၉အထိ နှစ်ရှည်သက်တမ်းနောက်ထပ်(၁၅)နှစ် ဆက်လက်ငှားရမ်းရန်အတွက် လိုအပ်သော ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲရန်စာချုပ်ချုပ်ဆိုခဲ့ကြပါသည်။

၂။ အဆိုပါဆန်းစစ်ခြင်းလုပ်ငန်းများအား ၂၀၁၆ခုနှစ်၊ မတ်လ၊ (၂၅)ရက်နေ့တွင်စတင်ဆောင်ရွက်နေပြီ ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Aye Thiha
Managing Director
e Guard Environmental Services



# SEIN MYINT MO TOURS & TRAVELS CO.,LTD.

**Bldg : 38, Room (11), 1st Floor, Shwe Ohn Pin Housing , Yankin Township, Yangon.**

**Tel:** **Fax:**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်မတ်လ (၁၈) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ Sein Myint Mo Tours and Travels Co., Ltd. သည် ရှမ်းပြည်နယ်အရှေ့ပိုင်း၊ ကျိုင်းတုံခရိုင်၊ ကျိုင်းတုံမြို့နယ်၊ ကျိုင်းတုံ (Paradise) ဟိုတယ်၊ (ကျိုင်းတုံဟိုတယ်ဟောင်း)၏ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနပိုင်မြေ (၁. ၃၇၄)ဧကအား B.O.T စနစ်ဖြင့် ကနဦးနှစ် (၅၀) နှင့် တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း(၂) ကြိမ် တိုးမြှင့်ငှားရမ်းပြီးအခန်း (၈၆)ခန်းပါနိုင်ငံတကာ အဆင့်မီဟိုတယ်အဆောက်အဦ များ တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

ကျွန်တော်များကုမ္ပဏီသည်ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန ကျိုင်းတုံ (Paradise) ဟိုတယ်၊ (ကျိုင်းတုံဟိုတယ်ဟောင်း) အား ၁၉၉၄ ခုနှစ်မှစတင်၍နှစ်ရှည်ငှားရမ်းဆောင်ရွက်ခဲ့ပြီး ၂၀၁၄ တွင်ငှား ရမ်းသည့်ကာလ နှစ် (၂၀) ပြည့်မြောက်ခဲ့ပြီးဖြစ်ပါသည်၊ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှမိမိ တို့ကုမ္ပဏီအား ၂၀၁၄ ခုနှစ်မှ ၂၀၂၉ ခုနှစ်ထိ (၁၅) နှစ်သက်တမ်းဆက်လက်ငှားရမ်းခွင့်ပြုခဲ့ပါသည်။

မိမိတို့ကုမ္ပဏီအနေဖြင့်လည်းဟိုတယ်နှင့်ခရီးသွားလုပ်ငန်းကဏ္ဍကိုတိုးမြှင့်ဆောက်ရွက်၍ပြည်ပဝင် ငွေတိုးမြှင့်ရာဖွေနိုင်ရန်နှင့်မိမိတို့ဟိုတယ်အားအဆင့်မြှင့်တိုးချဲ့ရင်းနှီးမြှုပ်နှံဆောင်ရွက်နိုင်ရန် အတွက်မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့နှစ်ရှည်သက်တမ်းနှစ် (၅၀ + ၁၀ +၁၀) သက်တမ်းဆောင်ရွက်ခွင့်ရရှိရန် အဆိုပြု လျှောက်ထားခြင်းဖြစ်ပါသည်၊ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၁၈. ၀၂. ၂၀၁၆) ရက်နေ့တင်ကျင်းပပြုလုပ်ခဲ့သည့် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနအလုပ်အမှုဆောင်အဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်အရမြန်မာ နိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီနှစ်ရှည်သက်တမ်းနှစ် (၅၀+၁၀+၁၀) သက်တမ်းဖြင့်ရင်းနှီးမြှုပ်နှံမှုပြု

# SEIN MYINT MO TOURS & TRAVELS CO.,LTD.

**Bldg : 38, Room (11), 1st Floor, Shwe Ohn Pin Housing , Yankin Township, Yangon.**

**Tel:** **Fax:**


လုပ်ရန် (ဌားရမ်းခွင့်ပြုရန်) သဘောတူဆုံးဖြတ်ခဲ့ပါသည်၊ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ အစည်းအဝေးမှတ်တမ်းဆုံးဖြတ်ချက်ထုတ်ပြန်စာ (ထွက်စာ) ပူးတွဲတင်ပြပါသည်။

ထိုသို့လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်နိုင်ပါရန်အတွက်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်အဆိုပြုလွှာ ( ) စုံကိုပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဒေါက်တာဘုန်းမြင့်
မန်နေဂျင်းဒါရိုက်တာ
Sein Myint Mo Tours and
Travels Co., Ltd.

<u>ပူးတွဲပါ</u>

- ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ (၂၄-၀၂-၂၀၁၆) ရက်စွဲပါစာအမှတ် ၁၈ ဂ (အုပ်ချုပ်မှု)/ နပတ/၀၅၂၉
- ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ၁၅-၀၃-၂၀၁၆ ရက်စွဲပါစာအမှတ် (၃၅၀၂)/၁-၃/၂၀၁၆ အစရ (ရှမ်း)
- ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ ၀၇-၀၃-၂၀၁၆ ရက်စွဲပါစာအမှတ် ဂျေ-ပီ/(ထွေ) (၀၃၂)
- ကျိုင်းတုံ (ဟောင်း) ဟိုတယ်ငှားရမ်းခြင်းဆိုင်ရာနှစ်ဘက်သဘောတူစာချုပ်
- ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ( ၁၇-၀၃-၂၀၁၆ ) ရက်စွဲပါစာအမှတ် ၂ (၅) ၄-၃၀/နပတ (၃၆၀) စာဖြင့်ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းညွှန်ကြားမှုဦးစီးဌာနသို့ရည်ညွှန်းလိပ်မူလျက်ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)အပေါ်သဘောထားမှတ်ချက်ပြန်ကြားလွှာ



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

စာအမှတ်၊ ၁၈ ဂ (အုပ်ချုပ်မှု) /နပတ/ ၀၅၂၉

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂၄ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **နိုင်ငံပိုင်ငှားရမ်းထားသော ကျိုင်းတုံဟိုတယ်ဟောင်း (ကျိုင်းတုံပါရာဒိုက်စ်) ဟိုတယ်ကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နှစ်ရှည်ငှားရမ်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁)ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏(၃၀-၆-၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ၁၈-ဂ(အုပ်ချုပ်မှု)နပတ/၂၁၁၄

(၂)ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ (၁၇-၈-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၂၁-ခ (ဘဏ္ဍာရေး) နပတ/၂၄၄

၁။ မြန်မာနိုင်ငံသို့လာရောက်လည်ပတ်သည့် ကမ္ဘာလှည့်ခရီးသည်များ တစ်နှစ်ထက်တစ်နှစ် တိုးတက်များပြားလာသည်နှင့်အမျှ ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းများသည်လည်း အရှိန်အဟုန်ဖြင့် ဖွံ့ဖြိုးတိုးတက်လျှက်ရှိပါသည်။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနအနေဖြင့်ပြောင်းလဲ လာသော စီးပွားရေးစနစ်နှင့်အညီ ပုဂ္ဂလိကကဏ္ဍဖွံ့ဖြိုးတိုးတက်စေရေးအတွက် နိုင်ငံပိုင် ဟိုတယ်၊ မိုတယ်၊ ခန်းမနှင့် အဆောက်အဦ (၂၃) လုံးကို ၁၉၉၄ ခုနှစ်မှစတင်၍ မြန်မာနိုင်ငံသား ပုဂ္ဂလိက လုပ်ငန်းရှင်အသီးသီးသို့ နှစ်ကာလအလိုက်နှစ်ဖက်သဘောတူစာချုပ်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့်ပြု လျှက်ရှိပါသည်။ (နောက်ဆက်တွဲ-က)

၂။ ဤသို့ဆောင်ရွက်ရာတွင်လက်ရှိ ငှားရမ်းလုပ်ကိုင်သူပုဂ္ဂလိက လုပ်ငန်းရှင်များမှမိမိတို့ ၏ လုပ်ငန်းများကိုကာလရှည်ရင်းနှီးမြှုပ်နှံဆောင်ရွက်နိုင်ရေး၊ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်

အညီ ဆောင်ရွက်ခွင့်ပြုရေးတို့အတွက် စီးပွားရေးဗိုရမ်များတွင် တင်ပြလေ့ရှိရာ ဤဝန်ကြီးဌာန အနေဖြင့် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီသို့ ရည်ညွှန်း (၁) ပါစာဖြင့် တင်ပြပေးခဲ့ပါသည်။ ကော်မတီမှ ငှားရမ်းသက်တမ်းပေါ်အခြေခံ၍ မိမိဝန်ကြီးဌာန၊ အလုပ်အမှုဆောင် ကော်မတီအစည်းအဝေးဆုံးဖြတ်ချက်ဖြင့်ဆောင်ရွက်ခြင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေး သို့တင်ပြခွင့်ပြုချက်ရယူ ဆောင်ရွက်ခြင်းနှင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်တို့သို့ တင်ပြခွင့်ပြု ချက်ရယူဆောင်ရွက်ခြင်းတို့ဖြင့် ဆောင်ရွက်ရန်ဆုံးဖြတ်ခဲ့ပါသည်။ (နောက်ဆက်တွဲ-ခ)

၃။ အဆိုပါဆုံးဖြတ်ချက်နှင့်အညီ နိုင်ငံပိုင်ဟိုတယ်၊ မိုတယ်များနှင့် အဆင့်မြင့်စားသောက် ခန်းမကိုလက်ရှိငှားရမ်းဆောင်ရွက်လျှက်ရှိသောပုဂ္ဂလိကလုပ်ငန်းရှင်များသို့နှစ်ရှည်ငှားရမ်းလုပ်ကိုင် ခွင့်ပြုမည်ဆိုပါကလက်ရှိငှားရမ်းလုပ်ကိုင်နေသည့် ပုဂ္ဂလိကလုပ်ငန်းရှင်များထံမှမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊လုပ်ထုံးလုပ်နည်းများနှင့်အညီ အဆိုပြုချက်တို့ကို ပြည့်စုံစွာတင်ပြစေပြီး ဤ ဝန်ကြီးဌာနမှ စိစစ်၍အလုပ်အမှုဆောင်ကော်မတီ၏အဆုံးအဖြတ်ရယူကာမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ မှုကော်မရှင်သို့ ဆက်လက်တင်ပြနိုင်ရေး ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ မှုကော်မရှင်သို့ ရည်ညွှန်းချက်(၂)ပါစာဖြင့် တင်ပြထားပါသည်။ (နောက်ဆက်တွဲ-ဂ)

၄။ ယခုအခါတွင်ရှမ်းပြည်နယ်၊ကျိုင်းတုံမြို့၊ကျိုင်းရင်းရပ်တောင်ခုတ်လမ်း၊ကျိုင်းတုံစော်ဘွား ဟော်ဝင်းရှိမြေဧရိယာ(၁.၃၇၄) ဧက ပေါ်တွင်လက်ရှိအခန်း (၂၄) ခန်းပါ ကျိုင်းတုံဟိုတယ်ဟောင်း ကို မြေအသုံးချခကျပ်သန်း(၂၅)၊ နှစ်စဉ် မြေငှားရမ်းခတစ်နှစ်လျှင် ကျပ်သန်း(၆၀) ပေးသွင်းပြီး ကျပ်သန်း(၃၈၂၄)ခန့်ထပ်မံရင်းနှီးမြှုပ်နှံ၍ လက်ရှိအခန်းများကိုအဆင့်မြှင့်ခြင်း၊ တိုးချဲ့တည်ဆောက် ခြင်းများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကနဦးနှစ်(၅၀)နှင့်တစ်ဆက်တည်း သက်တမ်းတိုးခွင့် (၁၀) နှစ်နှစ်ကြိမ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်လိုပါကြောင်း၊ လက်ရှိငှားရမ်း ဆောင်ရွက်နေသော ဒေါက်တာဘုန်းမြင့် (စိန်မြင့်မိုရ်ခရီးသွားလုပ်ငန်း) မှအဆိုပြုတင်ပြလာပါသည်။

(နောက်ဆက်တွဲ-ဃ)

၅။ ဒေါက်တာဘုန်းမြင့်၏ အဆိုပြုတင်ပြချက်အပေါ်တွင် ဤဝန်ကြီးဌာနအနေဖြင့် အောက်ပါ အတိုင်း သုံးသပ်တင်ပြအပ်ပါသည်-

(က) ခရီးသွားလုပ်ငန်းကဏ္ဍအရှိန်အဟုန်ဖြင့် ဖွံ့ဖြိုးတိုးတက်လာမှုနှင့်အတူ စီးပွားရေးလုပ်ငန်းရှင်များသည် ကိုယ်ပိုင်ဟိုတယ်များကို အပြိုင်အဆိုင်ဆောက်လုပ်လာကြသဖြင့်ပုဂ္ဂလိကပိုင်ဟိုတယ်များသည် သစ်လွင်တောက်ပနေပြီးနိုင်ငံပိုင်ဟိုတယ်များမှာမူငှားရမ်းကာလတိုတောင်းသဖြင့်ငှားရမ်းဆောင်ရွက်လုပ်ကိုင်သူများမှ ဟိုတယ်ကို အကြီးစားပြင်ဆင်လုပ်ကိုင်မှုနည်းပါးခြင်းတို့ကြောင့် နိုင်ငံပိုင်ဟိုတယ်များ၏ သစ်လွင်တောက်ပမှု အထောက်အကူပြုပစ္စည်းသုံးစွဲမှုနှင့် ဝန်ဆောင်မှုစွမ်းရည်ပြည့်ဝမှုအပိုင်းတွင်အားနည်းလျှက်ရှိကြောင်းတွေ့ရှိရပါသည်။ ပုဂ္ဂလိကလုပ်ငန်းရှင်များသို့ငှားရမ်းထားသည့် နိုင်ငံပိုင် ဟိုတယ်၊ မိုတယ်များနှင့် အဆင့်မြင့်စားသောက်ခန်းမ ကိုနှစ်ရှည်ငှားရမ်းလုပ်ကိုင်နိုင်ရန်ငှားရမ်းကာလကိုနှစ်ရှည်ငှားရမ်း လုပ်ကိုင်ခွင့်ပြုလိုက်ပါကပုဂ္ဂလိကလုပ်ငန်းရှင်များသည် ရင်းနှီးမြှုပ်နှံမှုများပိုမိုတိုးချဲ့ဆောင်ရွက်လာမည်ဖြစ်၍ နိုင်ငံပိုင်ဟိုတယ်များသည် ပုဂ္ဂလိကဟိုတယ်များနှင့် ရင်ပေါင်တန်းနိုင်ပြီး ဟိုတယ်လုပ်ငန်းကို တိုးချဲ့လုပ်ကိုင်ခြင်းဖြင့် ပြည်သူတို့အတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုပေါ်ပေါက်လာနိုင်မည်ဖြစ်ပါသည်။

(ခ) အဆိုပြုတင်ပြလာသော နှစ်စဉ်မြေငှားရမ်းခသည် ကျပ်သန်း (၆၀) ဖြစ်ပါသည်။ ယင်းနှုန်းသည် လက်ရှိကာတိုငှားရမ်းထားသောနှုန်းဖြစ်ပြီး၊ အဆိုပါနှုန်းသည်ဒေသအခြေအနေပေါ်မူတည် သတ်မှတ်ခဲ့ခြင်းမဟုတ်ဘဲ အိတ်ဖွင့်တင်ဒါစနစ်ဖြင့် ယှဉ်ပြိုင်ရွေးချယ်သတ်မှတ်သောနှုန်းဖြစ်ပါသဖြင့် သင့်လျော်သောနှုန်းထားဖြစ်ပါသည်။

(ဂ) ကုမ္ပဏီမှ မြေအသုံးချခနှင့်စပ်လျဉ်း၍ ကျပ်သန်း (၂၅) ကိုတစ်လုံးတစ်ခဲတည်းပေးသွင်းမည်ဖြစ်ပါသည်။ အဆိုပါတန်ဖိုးနှင့်အတူလုပ်ငန်းရှင်အနေဖြင့် ဟိုတယ်တွင်ကျပ်သန်း (၃၈၂၄) ထပ်မံရင်းနှီးမြှုပ်နှံဆောင်ရွက်မည်ဖြစ်သည့်အတွက်တင်ပြပါမြေအသုံးချခသည်လည်း လျော်ကန်မှုရှိပါသည်။

(ဃ) ငှားရမ်းမည့်ကာလအနေဖြင့် ၎င်းတို့ မူလစတင်ငှားရမ်းသောနေ့ (၁-၄-၂၀၁၄) မှစတင်၍ငှားရမ်းကာလကိုသတ်မှတ်ရေတွက်သွား မည်ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခနှုန်းထားအား(၄) နှစ်တစ်ကြိမ် ပြန်လည်သုံးသပ်တိုးမြှင့် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(င ) ယခုအဆိုပြုတင်ပြလာသည့် ကျိုင်းတုံဟိုတယ်ဟောင်း အနေဖြင့် ဤဝန်ကြီးဌာနသို့ ပေးဆောင်ရန် နှစ်စဉ်မြေငှားရမ်းခကြွေးကျန်နှင့်အခြားဌာနများသို့ ပေးဆောင်ရမည့် အခွန်အခကြွေးကျန်များမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၆။ ယခုတင်ပြလာသည့် ကျိုင်းတုံဟိုတယ်ဟောင်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေပါ ငှားရမ်း ကာလနှစ် ( ၅၀+၁၀+၁၀ ) ငှားရမ်းခွင့်ပြုမည်ဆိုပါက ဤဝန်ကြီးဌာနနှင့် ငှားရမ်းလုပ်ကိုင်သူတို့အကြား ရေးထိုးမည့် Build, Operate and Transfer (BOT)စာချုပ်များကို ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ဥပဒေဆိုင်ရာအကြံပြုချက်များနှင့်အညီ ပြုစု၍ ချုပ်ဆိုဆောင်ရွက်သွားပါမည်။

၇။ သို့ဖြစ်ပါ၍ နိုင်ငံသားပုဂ္ဂလိကလုပ်ငန်းရှင်များအပါအဝင်ပြည်သူများအနေဖြင့်နိုင်ငံတော်အစိုးရ၏ အချိန်နှင့်အမျှပြုပြင်ပြောင်းလဲဆောင်ရွက်ပေးမှုကို ပွင့်လင်းမြင်သာစွာတွေ့ရှိနိုင်ရေး၊နိုင်ငံပိုင်ဟိုတယ်များအဆင့်အတန်းမြင့်မားလာရေး၊ နှစ်ကာလကြာမြင့်စွာ ဆက်လက်တည်ရှိနိုင်ရေး၊ ပုဂ္ဂလိကလုပ်ငန်းရှင်များ လုပ်ငန်းဆောင်ရွက်မှု ပိုမိုအဆင်ပြေချောမွေ့စေရေးအတွက် ကျိုင်းတုံဟိုတယ်ဟောင်းကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ငှားရမ်း လုပ်ကိုင်ခွင့်ပြုနိုင်ပါရန်တင်ပြအပ်ပါသည်။

၂၄.၂.၂၀၁၆

( ဦးဌေးအောင် )

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ

မျှော

